ကုမ္ပဏီအမည်  - Unitedtex Overseas Co., Ltd.

လုပ်ငန်း  - CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၉-၉-၂၀၁၄ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၅-၁၀-၂၀၁၄ | ၂၇-၁၀-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၅-၁၀-၂၀၁၄ | ၁၁-၁၁-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၅-၁၀-၂၀၁၄ | ၁၄-၁၁-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၁၅-၁၀-၂၀၁၄ | ၃-၁၁-၂၀၁၄ | |
| | (င) CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၁၅-၁၀-၂၀၁၄ | ၃၀-၁၀-၂၀၁၄ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၃၉/၂၀၁၄) သို့ တင်ပြခြင်း | ၇-၁၀-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၅-၁၀-၂၀၁၄ | | |
| ၅ | မြေအသုံးပြုခွင့်အား စီးပွားရေးရာ ကော်မတီ အစည်းအဝေး ၃၄/၂၀၁၄ (၂၀-၁၁-၂၀၁၄) မှခွင့်ပြုထားပြီး ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက်တင်ပြမည် ဖြစ်ပါသည်။ | | | |
| ၆ | ကုမ္ပဏီသို့ လိုအပ်ချက်များပြင်ဆင်ရန် အကြောင်းကြားခြင်း | ၄-၁၁-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | | ၂၁-၁၁-၂၀၁၄ | |
| ၈ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ အစုံ(၅)စုံ ပေးပို့ခြင်း | | ၂၃-၁၁-၂၀၁၄ | |
| ၉ | **စုစုပေါင်းကြာမြင့်ရက် ၅၆ ရက်** | | | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Unitedtex Overseas Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Unitedtex Overseas Co., Ltd.<br>- Mr. Wu Zhenyu (Chinese) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Unitedtex Ltd. (Hong Kong) 99 %<br>- Texbank Limited (Hong Kong) 1 % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် - ၁၇၇၊ လှိုင်သာယာစက်မှုဇုန် (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေဧရိယာ | - ၄၉၁၂.၄၈ စတုရန်းမီတာ (၁.၂၁၃ ဧက) |
| | အဆောက်အဦအကျယ်အဝန်း | - ရုံးခန်း - ၇၄ ပေ x ၅၀ ပေ ( ၁ ထပ် အဆောက်အဦ )<br>- စက်ရုံ ၇၄ ပေ x ၂၄၀ ပေ ( ၁ ထပ် အဆောက်အဦ ) |
| | မြေပိုင်ရှင် | - Best Maker Co., Ltd. |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၂၉,၄၇၄.၈၈<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၆ နှုန်း) |
| | မြေငှားသက်တမ်း | - ၃၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၀.၇၀ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - **US$ (သန်း)** |
| | ငွေသား | ၀.၁၅၀၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၀.၃၇၇၇ |
| | စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | ၀.၀၈၁၃ |
| | မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၃၅၁ |
| | ရုံးသုံးပရိဘောဂ(ပြည်တွင်း) | ၀ .၀၅၅၉ |
| | **စုစုပေါင်း** | **၀.၇၀၀၀** |
| ၆။ | ဝန်ထမ်းအင်အား | - **၇၄၀ ဦး** |
| | ပြည်တွင်း | ၇၃၀ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၉၂,၀၀၀၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | ၁၀ ဦး (ပြည်ပ အနိမ့်ဆုံးကျွမ်းကျင်သူတစ်ဦး၏ လစာမှာ US$ ၉၀၀၊ အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀ % ပြည်ပပို့ |

| | | |
|---|---|---|
| ၈။ | ၆နှစ်မြောက်တွင် ကုမ္ပဏီ၏ | |
| | ဝင်ငွေ | အမေရိကန်ဒေါ်လာ ၂.၆၁၇ သန်း |
| | အသုံးစရိတ် | အမေရိကန်ဒေါ်လာ ၂.၁၅၅ သန်း |
| | အသားတင်အမြတ် | အမေရိကန်ဒေါ်လာ ၀.၄၆၂ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၁၅၄ သန်း |
| | အရင်းကြေကာလ | - ၃ နှစ် ၅ လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၃၈.၁၄ % |
| | | - ၁ US$ = ၉၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ၄၇၅,၀၀၀ Unit |
| ၁၂။ | CSR | - လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု(Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | မီးဘေးကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ (၅၀,၀၀၀)ဆံ့ ရေကန်(၂)ကန် တည်ဆောက်မည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်းမီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ အရေးပေါ်အခြေအနေ ပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Unitedtex Overseas Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ် (၁၇၇)၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၀.၇၀၀ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - | ၃ နှစ် ၅ လ |
| IRR | - | ၃၈.၁၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၃၅.၈၇ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | |
| ၅ | ဝင်ငွေခွန် | ကျပ် ၃၀၄.၉၅ သန်း | ကျပ် ၂၉၂.၆၀ သန်း |
| ၆ | ရေ/ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၇၆၂.၈၅ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း (၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၂) ဦး |
| ၈ | CSR ၂ % | | ကျပ် ၄၃.၀၃၅ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၁၉၆.၀၀၈ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၃၀ ဦး<br>ပြည်ပ ၁၀ ဦး<br>ပြည်တွင်းလုပ်သား (၇၃၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၃၄၂.၃၆၈ သန်း** | **ကျပ် ၁,၂၉၅.၆၅၆ သန်း** |
| | | ၁ : | ၄ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရကာ- ၃/န-၁၀၉၄/၂၀၁၄( ၅၂၉ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Unitedtex Overseas Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဟောင်ကောင်တွင်ဖွဲ့စည်းထားသော Unitedtex Ltd. မှ ၉၉% နှင့် Texbank Ltd. မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Unitedtex Overseas Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် (၁၇၇)၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၂၁၃၉ ဧက (၄၉၁၂.၄၈ စတုရန်းမီတာ)၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Best Maker Co., Ltd. နှင့် Unitedtex Overseas Co., Ltd. တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ အဆောက်အဦ ဓါတ်ပုံ၊ မြေဆိုင်ရာ အထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြ မြေပုံများ၊ မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း) တို့ကို ပူးတွဲ တင်ပြထား ပါသည်။

၃။ မြေနှင့်အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁.၂၁၃၉ ဧက (၄၉၁၂.၄၈ စတုရန်းမီတာ) ဖြစ်ပြီး ရုံးခန်းဧရိယာမှာ ၇၄ပေx၅၀ပေရှိသော ၁ ထပ်အဆောက်အဦတစ်လုံး နှင့်စက်ရုံဧရိယာမှာ ၇၄ပေ x ၂၄၀ ပေ ရှိသော ၁ ထပ် အဆောက်အဦတစ်လုံး ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန် ဒေါ်လာ ၂၉,၄၇၄.၈၈ ဖြစ်ပါသည်။ မြေနှင့်အဆောက်အဦငှားရမ်းခမှာတစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၆ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်မှုကာလမှာ (၁၈) လကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆောက်အဦ

ပြင်ဆင်မွမ်းမံခြင်းနှင့် စက်များတပ်ဆင်ခြင်းအတွက် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၀.၇၀၀ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | US$ (သန်း) |
|---|---|
| ငွေသား | ၀.၁၅၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၀.၃၇၇၇ |
| စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | ၀.၀၈၁၃ |
| ရုံးသုံးပရိဘောဂ (ပြည်တွင်း) | ၀.၀၃၅၁ |
| မော်တော်ယာဉ်(ပြည်တွင်း | ၀.၀၅၅၉ |
| **စုစုပေါင်း** | **၀.၇၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း (၇၃၀) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်သူ (၁၀) ဦး စုစုပေါင်း (၇၄၀) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၂,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၉၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော အထည်များကို ပြည်ပသို့ ၁၀၀ % တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်) ၏ ထုတ်လုပ်မှု အရေအတွက်နှင့် CMPလက်ခနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **ထုတ်လုပ်မှု အရေအတွက် (Doz/000)** | **CMPလက်ခနှုန်း (US$/ Doz)** |
|---|---|---|---|
| ၁ | All Kinds of Jacket | ၁၈ | ၂၆ |
| ၂ | All Kinds of Pants | ၂၆ | ၁၄ |
| ၃ | All Kinds of Coat | ၁၆ | ၃၇ |
| ၄ | All Kinds of Shirt | ၂၄ | ၁၃ |
| ၅ | All Kinds of Vest | ၂၅ | ၈ |
| ၆ | All Kinds of Blouse | ၂၄ | ၉ |
| ၇ | All Kinds of Dress | ၂၅ | ၉ |
| ၈ | All Kinds of Skirt | ၂၄ | ၁၀ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂.၆၀၇ |
| (ခ) | အသုံးစရိတ် | ၂.၁၅၅ |
| (ဂ) | အသားတင်အမြတ် | ၀.၄၆၂ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၅၄ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန် ပေါ်နှုန်း IRR မှာ ၃၈.၁၄ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းများကို ထိခိုက်နိုင်ခြင်း မရှိကြောင်း၊ လုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား အင်အား (၇၁၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေကွက်အမှတ် (၁၇၇)၊ပန်ဘဲခေါင်းမောင်ခက်လမ်း ၊လှိုင်သာယာစက်မှုဇုန်(၁)၊လှိုင်သာယာမြို့နယ်ရှိမြေနှင့် အဆောက်အဦကိုပိုင်ရှင် The Best Maker Co., Ltd. မှ မြေတစ်စတုရန်းမီတာလျှင် ၆ ဒေါ်လာနှုန်းဖြင့် ၅ နှစ်တစ်ကြိမ် စာချုပ်ချုပ်ဆိုပြီး နှစ် ၃၀ ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေးစီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊ (၃၀-၁၀-၂၀၁၄) ရက်နေ့တွင် ကျင်းပသော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၄၀/၂၀၁၄) ဆုံးဖြတ်ချက် အပိုဒ် (၁၆)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း သစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။

နောက်ဆက်တွဲ (က)

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြု လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များ အတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) အထည်ချုပ်လုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက် အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြု ဆောင်ရွက်ရန်။

(၂) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ် များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာ မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်း ကျင် ဆိုင်ရာစီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan – EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊စည်းမျဉ်း စည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက် ရန်၊

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရနှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူ ဆောင်ရွက်ရန်**ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။**

**နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းသည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီး မြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ် ကြောင်း၊ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံး မပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက် ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ် ပါကြောင်း၊ CMP လုပ်

ခန့်မှန်းထား တင်ပြထားချက်တွင် လျော့နည်းနေသဖြင့် တိုးမြှင့်ပြင်ဆင် တင်ပြရန်လိုအပ်ပါကြောင်း၊ ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်း တင်ပြ ချက်တွင် Thread သုံးစွဲမှုနှုန်းအား Kg ဖြင့်ဖော်ပြထားသဖြင့် M(သို့)Yd ဖြင့်ပြင်ဆင်တင်ပြရန်နှင့် Skirt အတွက် Interlining သုံးစွဲနှုန်းအား လျော့၍ ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း၊ နှစ်အလိုက်ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်း လိုအပ်ချက်တင်ပြထားမှုအား နှစ်အလိုက် ကုန်ထုတ်လုပ်မှုနှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်း အပေါ် မူတည်၍ ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း၊ ဝန်ထမ်းအင်အား တင်ပြထားချက် ဆီလျော်မှုရှိသော်လည်း စက်အင်အား တိုးမြှင့်တင်ပြရန်လိုအပ်ပါကြောင်းနိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက်များကို စက်မှုဝန်ကြီး ဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** **နောက်ဆက်တွဲ(ဂ)**

(ဃ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ** မှကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည်လိုအပ်ချက်နှုန်းထား၊ တားမြစ်သတ်မှတ် စံနှုန်းထားများနှင့် ကိုက်ညီမှုမရှိကြောင်း တွေ့ရှိရပြီး အပ်ချည်သုံးစွဲမှုအား Kg ဖြင့် ဖော်ပြထားသည်ကို တွေ့ရှိရပါကြောင်း၊ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 2,472,000 yds ကုန်ကျမည်ဖြစ်သဖြင့် အဆိုပြုချက်တွင် 2,174,400yds ဖော်ပြထားပြီး 297,600 yds လျော့နည်းနေ၍ တွက်ချက်မှု မှားယွင်းနေသဖြင့် ပြင်ဆင်တင်ပြသင့်ပါကြောင်း၊ CMP လက်ခနှုန်းထားဆီလျော်မှုရှိပါကြောင်း၊ All Kinds of Jacket, All Kinds of Pank, All Kinds of Coat, All Kinds of Shirt, All Kinds of Vest, All Kinds of Blouse, All Kinds of Dress နှင့် All Kinds of Skirt တို့ဖြစ်ပြီး ထုတ်လုပ်မှုတွင် လူထပ်မံခွဲခြားပါက Skilled Workers နည်းနေသဖြင့် ထပ်မံခန့်ထား ရမည်ဖြစ်ပါကြောင်း၊ စက်အပေါ် အခြေခံတွက်ချက်ပါက အောက်ပါအတိုင်း ထုတ်လုပ်နိုင်မည်ဖြစ်ပါကြောင်း၊ ထုတ်လုပ်မှုများတွင် Vest တစ်မျိုးတည်းသာ ပြည့်မီပြီး ကျန်အမျိုးအစားများ ပြည့်မီရန် စက်နှင့်လူအင်အား ထပ်မံတိုးချဲ့ရမည်ဖြစ်၍ ပြင်ဆင်တင်ပြသင်ပြီး ထုတ်လုပ်နိုင်သည့်အတိုင်း ကုန်ကြမ်းတင်သွင်း သင့်ပါကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ် အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူပြုမည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို

အားပေးဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက်များကို CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဃ)**

၁၁။ ငွေရေးကြေးရေး အထောက် အထားအဖြစ် Unitedtex Ltd. သည် (၁၂-၈-၂၀၁၄) ရက်နေ့တွင် ဟောင်ကောင်ရှိ Bank of China ၌ US$ ၂,၅၅၇,၇၀၇.၀၉ ရှိကြောင်းနှင့် Texbank Ltd. သည် (၁၂-၈-၂၀၁၄) နေ့တွင် ဟောင်ကောင်ရှိ Bank of China ၌ US$ ၃,၁၃၈,၈၀၃.၇၅ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** ရေဂါလံ (၅၀,၀၀၀)ဆံ့ ရေကန်(၂)ကန် တည်ဆောက်မည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါကြောင်း၊ အရေးပေါ်အခြေအနေ ပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ Unitedtex Overseas Co., Ltd. မှ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များအတွက် စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲနိုင် ရန်အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ်နှင့် တစ်နှစ်လျှင် ဝင်ငွေကျပ်သိန်း (၂၀) နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများပြင်ဆင်သတ်မှတ်ခြင်းတွင်ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်

ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၉/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ (က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို စီးပွားရေးရာ ကော်မတီ၏ ၃၄/၂၀၁၄ (၂၀-၁၁-၂၀၁၄)ကြိမ်မြောက် အစည်းအဝေးမှခွင့်ပြုထားပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ဆက်လက်တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ ဟောင်ကောင်တွင်ဖွဲ့စည်းထားသော Unitedtex Ltd. မှ ၉၉% နှင့် Texbank Ltd. မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Unitedtex Overseas Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် (၁၇၇)၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၂၁၃၉ ဧက (၄၉၁၂.၄၈စတုရန်းမီတာ)၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ် ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြေသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Unitedtex Overseas Co., Ltd. | Unitedtex Ltd.<br>(Represented By)<br>Incorporated In Hong Kong<br>(1) Mr. Wu Zhenyu<br>Managing Director<br>Chinese<br>P.P No. G 35373160 | 28 Xingming Road, Suzhou Industrial Park, Suzhou, Jiangsu, China. |
| | | Texbank Limited<br>(Represented By)<br>Incorporated In Hong Kong<br>(2) Mr. Zou Wangsuo<br>Director<br>Chinese<br>P. P No. E 17086403 | Group 11,Qili Bridge, Baijuzhen, Dafeng, Yancheng Jiangsu, China. |
| | | (3) Mrs. Wang Junfeng<br>Director<br>Chinese<br>P.P No. G 54768388 | Room 1602, Block 11, Donghu Linyu, Suzhou Industrial Park, Suzhou, Jiangsu, China. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁- ၅၂၃၃၂၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်ခင်ခင်ချို

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

တိုင်းဒေသကြီးအစိုးရအဖွဲ့ ရန်ကုန်တိုင်းဒေသကြီး
စာအမှတ်- ၂၅၉၈၁
ရက်စွဲ- ၁၁.၁၁.၁၄

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ-က

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ နိုဝင်ဘာ လ ၄ ရက်

သို့

M-5207
11/11/14

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၅. ၁၀. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက- ၃/ န - ၁၀၉၄ / ၂၀၁၄ (၄၀၇-က)

၁။ ဟောင်ကောင်တွင်ဖွဲ့စည်းထားသော Unitedtex Ltd. မှ ၉၉%နှင့် Texbank Ltd. ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Unitedtex Overseas Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၁၇၇)၊ ပန်းဘဲခေါင်း မောင်ခက်လမ်း၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁. ၄၉၆ ဧက(၆၀၅၄. ၁၀ စတုရန်းမီတာ)၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၁၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေကွက်အမှတ်(၁၇၇)၊ ပန်းဘဲခေါင်း မောင်ခက်လမ်း၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်ရှိ မြေနှင့်အဆောက်အဦကို ပိုင်ရှင် Best Maker Co., Ltd. ကိုယ်စားပြုသူ ဦးထွန်းသိန်းထံမှ Mr. Wu Zhenyu က ငှားရမ်းခအဖြစ် မြေတစ်စတုရန်းမီတာလျှင် (၆. ၀)ဒေါ်လာနှုန်းဖြင့် (၅)နှစ်တစ်ကြိမ် စာချုပ်ချုပ်ဆိုပြီး နှစ်(၃၀)ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2014/Cabinet/40.,(9)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၃၀. ၁၀. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၀/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၆)အရ Unitedtex Overseas Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Unitedtex Overseas Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန　　နောက်ဆက်တွဲ-ခ

ပြည်ထောင်စုဝန်ကြီးရုံး



စာအမှတ်　၂/၂၂၀(ခ)(၆)/( ၈၄၃၉ /၂၀၁၄)

ရက်စွဲ　　၂၀၁၄ ခုနှစ် ၊ နိုဝင်ဘာလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။　<u>Unitedtex Overseas Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည်ညွှန်းချက်။　မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၃/န-၁၀၉၄/၂၀၁၄(၄၀၇-ခ)

၁။　အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ဟောင်ကောင်တွင် ဖွဲ့စည်းထားသော Unitedtex Ltd မှ (၉၉%) နှင့် Texbank Ltd မှ (၁%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Unitedtex Overseas Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် (၁၇၇) ၊ ပန်းဘဲခေါင်း မောင်ခတ်လမ်း ၊ လှိုင်သာယာစက်မှုဇုန် (၁) ၊ လှိုင်သာယာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၄၉၆) ဧက (၆၀၅၄.၁၀ စတုရန်းမီတာ) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။　ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း ၊ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက် ၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး နှစ်(၃၀) ဖြင့် စတင်ဆောင်ရွက်မည်ဖြစ်ပြီး (၁၀)နှစ် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆောက်အဦ တည်ဆောက်မည့်ကာလမှာ (၁) နှစ် (၆) လ ဖြစ်ကြောင်း ၊ မြေငှားစာချုပ်၊ သင်းဖွဲ့မှတ်တမ်း ၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များ၊ ထုတ်လုပ်မည့် ကုန်ပစ္စည်းအမျိုးအစား ၊ အထည်ချုပ်စက်ရုံပုံစံ၊ အသုံးပြုမည့်စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းစာရင်း ၊ စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ၊ မီးဘေးကာကွယ်ရေး အစီအစဉ်များ ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ပြုပြင်ခြင်း လုပ်ငန်းများဆောင်ရွက်ရာတွင် မြေသားများပြုပြင် ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့်အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း ၊ လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထု ၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။ လုပ်ငန်းတွင် အဓိကအသုံးပြုမည့် Fabric ကဲ့သို့ Synthetic ကုန်ကြမ်း ပိတ်စ / ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထု ညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း ၊ ပိတ်စဖြတ်ခြင်း ၊ ပုံစံညှပ်ခြင်း ၊ အထည်ချုပ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Unitedtex Overseas Co., Ltd မှ အထည်ချုပ် လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရနှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထား ရယူဆောင်ရွက်ရန်။

11/11

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံးအဖွဲ့မှူး)

မိတ္တူ-

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

NPT-2733
31-10-14

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

နောက်ဆက်တွဲ-ဂ

M-5143
3/11

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅ (၃၄၄၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၃၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၁၀.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န-၁၀၉၄/ ၂၀၁၄ (၄၀၇-ဂ)

၁။ Unitedtex Overseas Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၁)၊ ပန်းဘဲခေါင်းမောင်ခက်လမ်း၊ မြေကွက်အမှတ်(၁၇၇)တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်းထားတင်ပြထားချက်တွင် Coat နှင့် Shirt အတွက် လျော့နည်းနေသဖြင့် တိုးမြှင့်ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(စ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်း တင်ပြချက်တွင် Thread သုံးစွဲမှုနှုန်းအား Kg ဖြင့် ဖော်ပြထားသဖြင့် M (သို့) Yd ဖြင့် ပြင်ဆင်တင်ပြရန်နှင့် Skirt အတွက် Interlining သုံးစွဲနှုန်းအား လျော့၍ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဆ) နှစ်အလိုက် ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်းလိုအပ်ချက် တင်ပြထားမှုအား နှစ်အလိုက် ကုန်ထုတ်လုပ်မှုနှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်းအပေါ် မူတည်၍ ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဇ) ဝန်ထမ်းအင်အား တင်ပြထားချက် ဆီလျော်မှုရှိသော်လည်း စက်အင်အား တိုးမြှင့်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Unitedtex Overseas Co.,Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

(signature) ၃၀.၁၀.၂၀၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မိုးဆွေ၊ ဒုတိယရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အထည်အလိပ်လုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

နောက်ဆက်တွဲ-ဃ

စာအမှတ်၊ ၃၄ - အလ /ခွဲ(၂)၂၀၁၄(၁၀၃၆၀)
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ အောက်တိုဘာလ ၂၇ ရက်

NT-5119
30/10

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

NPT-2677
29.10.14

အကြောင်းအရာ။ **Unitedtex Overseas Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၁၀-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက- ၃/န - ၁၀၉၄/၂၀၁၄(၄၀၇-သာ)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၁) ၊ ပန်းပဲခေါင်း မောင်ခက်လမ်း၊ မြေကွက်အမှတ်(၁၇၇)၌ ဟောင်ကောင်တွင် ဖွဲ့စည်းထားသော Unitedtex Ltd က ၉၉% နှင့် Texbank Ltd က ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Unitedtex Overseas Co., Ltd တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ ၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာနညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာတို့သည် ၂၁-၁၀-၂၀၁၄ ရက်နေ့တွင် သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ Unitedtex Overseas Co., Ltd ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည် လိုအပ်ချက်နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. All Kinds of Jacket | 2.2 yds/pcs | ကိုက်ညီမှုရှိပါသည်။ |
| 2. All Kinds of Pant | 1.43 yds/pcs | ״ |
| 3. All Kinds of Coat | 2.75 yds/pcs | ״ |
| 4. All Kinds of Shirt | 1.43 yds/pcs | ״ |
| 5. All Kinds of Vest | 1.32 yds/pcs | ကိုက်ညီမှုမရှိပါ။ |
| 6. All Kinds of Blouse | 1.10 yds/pcs | ကိုက်ညီမှုရှိပါသည်။ |
| 7. All Kinds of Dress | 1.32 yds/pcs | ״ |
| 8. All Kinds of Skirt | 1.32 yds/pcs | ကိုက်ညီမှုမရှိပါ။ |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက် နှုန်းထား၊ တားမြစ်သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှု မရှိကြောင်း တွေ့ရှိရပြီး အပ်ချည်သုံးစွဲမှုအား Kg ဖြင့် ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

| ချုပ်ထည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်ထည်လိုအပ် ချက်နှုန်းထား | လိုအပ်မည့် ကုန်ကြမ်းအရေအတွက် |
|---|---|---|---|
| 1. All Kinds of Jacket | 15000 Dzs | 2.2 yds/pcs | 396000 yds |
| 2. All Kinds of Pant | 20000 Dzs | 1.43 yds/pcs | 343200 yds |
| 3. All Kinds of Coat | 12000 Dzs | 2.75 yds/pcs | 396000 yds |
| 4. All Kinds of Shirt | 20000 Dzs | 1.43 yds/pcs | 343200 yds |
| 5. All Kinds of Vest | 21000 Dzs | 1.0 yds/pcs | 252000 yds |
| 6. All Kinds of Blouse | 20000 Dzs | 1.10 yds/pcs | 264000 yds |
| 7. All Kinds of Dress | 15000 Dzs | 1.32 yds/pcs | 237600 yds |
| 8. All Kinds of Skirt | 20000 Dzs | 1.0 yds/pcs | 240000 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 2472000 yds ကုန်ကျမည်ဖြစ်သဖြင့် အဆိုပြုချက်တွင် 2174400 yds ဖော်ပြထားပြီး 297600 yds လျော့နည်းနေ၍ တွက်ချက်မှု မှားယွင်းနေသဖြင့် ပြင်ဆင်တင်ပြသင့်ပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ။** အဆိုပြုချက်ပါ CMP လက်ခနှုန်းထားများသည် လက်ရှိ လက်ခနှုန်းထား နှင့် နှိုင်းယှဥ်ရာတွင် ဆီလျော်မှုရှိကြောင်း တွေ့ရှိရပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း၏ လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. All Kinds of Jacket | 24 US$/ Dz | 16-18 US$/ Dz |
| 2. All Kinds of Pant | 12 US$/Dz | 8-10 US$/Dz |
| 3. All Kinds of Coat | 29 US$/Dz | 18-20 US$/Dz |
| 4. All Kinds of Shirt | 11 US$/Dz | 10-12 US$/Dz |
| 5. All Kinds of Vest | 6 US$/Dz | 6-8 US$/Dz |
| 6. All Kinds of Blouse | 7 US$/Dz | 8-10 US$/Dz |
| 7. All Kinds of Dress | 7 US$/Dz | 8-10 US$/Dz |
| 8. All Kinds of Skirt | 8 US$/Dz | 8-10 US$/Dz |

(ဂ) **နှစ်စဥ်ထုတ်လုပ်မှု၊ စက်အင်အား၊ လုအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ All Kinds of Jacket, All Kinds of Pant , All Kinds of Coat, All Kinds of Shirt, All Kinds of Vest , All Kinds of Blouse , All Kinds of Dress နှင့် All Kinds of Skirt တို့ဖြစ်ပြီး Sewing Machines ၂၈၇ လုံး၊ Two Needle Machines ၁၇ လုံး၊ Over Lock Machines ၄၁ လုံးတို့ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး Quality Control Workers ၁၀ ဦး၊ Skilled Workers ၅၀၀ ဦး၊ Unskilled Workers ၁၅၀ ဦး ဖော်ပြထားသဖြင့် Finishing & Cutting ဆိုင်ရာ လူဦးရေ ထပ်မံခွဲခြားပါက Skilled Workers နည်းနေသဖြင့် ထပ်မံခန့်ထား ရမည်ဖြစ်ပါသည်။ စက်ပေါ် အခြေခံ တွက်ချက်ပါက အောက်ပါ အတိုင်း ထုတ်လုပ်နိုင်ပါမည် -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက်ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. All Kinds of Jacket | စက်(၁)လိုင်း | 264 Pcs/10 hour | 6820 Dzs |
| 2. All Kinds of Pant | စက်(၁)လိုင်း | 352 Pcs/10 hour | 9093 Dzs |
| 3. All Kinds of Coat | စက်(၁)လိုင်း | 264 Pcs/10 hour | 6820 Dzs |
| 4. All Kinds of Shirt | စက်(၁)လိုင်း | 528 Pcs/10 hour | 13640 Dzs |
| 5. All Kinds of Vest | စက်(၁)လိုင်း | 792 Pcs/10 hour | 20460 Dzs |
| 6. All Kinds of Blouse | စက်(၁)လိုင်း | 440 Pcs/10 hour | 11366 Dzs |
| 7. All Kinds of Dress | စက်(၁)လိုင်း | 440 Pcs/10 hour | 11366 Dzs |
| 8. All Kinds of Skirt | စက်(၁)လိုင်း | 440 Pcs/10 hour | 11366 Dzs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုများတွင် Vest တစ်မျိုးတည်းသာ ပြည့်မီပြီး ကျန်အမျိုးအစားများ ပြည့်မီရန် စက်နှင့်လူအင်အား ထပ်မံတိုးချဲ့ရမည်ဖြစ်၍ ပြင်ဆင်တင်ပြ သင့်ပြီးထုတ်လုပ်နိုင်သည့်အတိုင်း ကုန်ကြမ်းတင်သွင်းသင့်ပါသည်-

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ဒါဇင်) |
|---|---|---|
| 1. All Kinds of Jacket | 15000 Dzs | 6820-7000 Dzs |
| 2. All Kinds of Pant | 20000 Dzs | 9093-9500 Dzs |
| 3. All Kinds of Coat | 12000 Dzs | 6820-7000 Dzs |
| 4. All Kinds of Shirt | 20000 Dzs | 13640-14000 Dzs |
| 5. All Kinds of Vest | 21000 Dzs | 20640-21000 Dzs |
| 6. All Kinds of Blouse | 20000 Dzs | 11366-11500 Dzs |
| 7. All Kinds of Dress | 15000 Dzs | 11366-11500 Dzs |
| 8. All Kinds of Skirt | 20000 Dzs | 11366-11500 Dzs |

၃။ သို့ဖြစ်၍ Unitedtex Overseas Co., Ltd အား ပြင်ဆင်တင်ပြ သင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုပေးသင့်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Unitedtex Overseas Co., Ltd
ရုံးလက်ခံ/မျှောစာတွဲ

# UNITEDTEX OVERSEAS COMPANY LIMITED

# ( GARMENT FACTORY )

# PROPOSAL OF THE PROMOTER

# TO MAKE FOREIGN INVESTMENT

# IN THE UNION OF MYANMAR

UNITEDTEX OVERSEAS COMPANY LIMITED

PAT အစည်းအဝေးပြီး၊ ဌာနဆိုင်ရာ သဘောထားများအရ ပြင်ဆင်ချက်များ

| စဉ် | အကြောင်းအရာ | ယခင်အဆိုပြုချက်ပါ အချက်အလက်များ | ပြင်ဆင်သည့် အချက်အလက်များ |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည် (အင်္ဂလိပ်) | UNITEDTEX OVERSEAS CO.,LTD | ပြင်ဆင်မှု မရှိပါ။ |
| | ကုမ္ပဏီအမည် (မြန်မာ) | ယူနိုက်တက်တက်(စ်) အိုဗာဆီး ကုမ္ပဏီ လီမိတက် | ပြင်ဆင်မှု မရှိပါ။ |
| ၂ | Promoter အမည် | Mr.Wu Zhenyu | ပြင်ဆင်မှု မရှိပါ။ |
| ၃ | ဒါရိုက်တာစာရင်း | Schedule - 1 | ပြင်ဆင်မှု မရှိပါ။ |
| ၄ | အသုံးပြုစက်စာရင်း | Schedule - 3 | စက်မှုသဘောထား မှတ်ချက်အရ စက် (၅၀) လုံး တိုးမြှင့်ပြင်ဆင် တင်ပြထား ပါသည်။ |
| ၅ | ရင်းနှီးမြှုပ်နှံမှု ပမာဏ | US$ 0.700 Million | ပြင်ဆင်မှု မရှိပါ။ |
| ၆ | ထုတ်လုပ်သည့်ပစ္စည်း | Schedule - 7 | ပြင်ဆင်မှု မရှိပါ။ |
| ၇ | ရောင်းချသည့်စနစ် | 100% Export (CMP basic) | စက်မှုသဘောထားအရ Coat, Shirt အတွက် CMP Price တိုးမြှင့်ပြင်ဆင် တင်ပြထား ပါသည်။ |
| ၈ | လုပ်ငန်းသက်တမ်း | နှစ်ပေါင်း(၃၀) | ပြင်ဆင်မှု မရှိပါ။ |
| ၉ | ငှားရမ်းသည့် မြေနေရာ | မြေကွက်အမှတ် –၁၇၇၊ပန်းဘဲခေါင်မောင်ခက် လမ်း ၊ လှိုင်သာယာစက်မှုဇုန်–၁ ၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ပြင်ဆင်မှု မရှိပါ။ |
| ၁၀ | မြေငှားခနှုန်းထား | US$ 6/- per sq.meter per year,Yr.1 to Yr.30 | ပြင်ဆင်မှု မရှိပါ။ |
| ၁၁ | စီအမ်ပီလက်ခနှုန်းထား | Schedule - 8 | စက်မှုသဘောထားနှင့် အညီ Jacket, Pants & Coat စီအမ်ပီ ဈေးနှုန်း တိုးမြှင့်ပြင်ဆင် ထားပါသည်။ |
| ၁၂ | ကုန်ကြမ်းလိုအပ်ချက် | Schedule - 12 | စက်မှုဝန်ကြီးဌာနနှင့် CMP သဘောထား ၏ မှတ်ချက်အရ၊ Pants, Shirt ပိတ်များ နေသဖြင့် လျှော့၍ ပြင်ဆင်တင်ပြထား ပါသည်။ |
| ၁၃ | Material Norm | Schedule - 11 | စက်မှုဝန်ကြီးဌာန၏ မှတ်ချက်အရ ကုန်ကြမ်းအသုံးအနှုန်းနှင့်မပါဝင်သည့် များကိုပြင်ဆင်ထားပါသည်။ |
| ၁၄ | ခန့်အပ်မည့်နိုင်ငံခြားသား | Schedule - 2 | ပြင်ဆင်မှုမရှိပါ။ |
| ၁၅ | ခန့်အပ်မည့် နိုင်ငံသား | Schedule - 2 | CMPသဘောထားနှင့် အညီ ပြင်ဆင်ထားပါသည်။လူဦးရေ (၂၀) ဦးတိုးမြှင့်ခန့်ထားပါသည်။ |

| | | | |
|---|---|---|---|
| ၁၆ | အရင်းကြေကာလ | (၃) နှစ် (၅)လ | ပြင်ဆင်မှု မရှိပါ။ |
| ၁၇ | အိုင်အာရ်အာရ် | ၃၈.၁၄ % | ပြင်ဆင်မှု မရှိပါ။ |
| ၁၈ | အခြား | | Profit & Loss, Cash Flow,DOH,IOH, Salary Statementတို့တွင်အထက်ပါပြင်ဆင်ချက် များကြောင့်ပြောင်းလဲသွားပါသည်။ |

To

The Chairman

Myanmar Investment Commission

Yangon.

Dated: : 15-10-2014

**SUBJECT: :APPLICATION FOR ISSUE OF INVESTMENT PERMIT.**

We have the honour to submit this application together with the Investment Proposal supported by a Draft Lease Agreement of land and building, project prefeasibility studies, projection papers and a set of Memorandum and Articles of Association of a 100% Foreign Company by the name of "Unitedtex Overseas Company Limited " which is going to be formed under the Myanmar Companies Act.

The Company has projected the establishment of a Garment Factory on CMP basis at Plot No.177, Pabe Gaung Maung Khet Street, Hlaing Tharyar Industrial Zone (1), Hlaing Tharyar Township, Yangon Region, Myanmar grouped as a whole measuring 1.2139 acres.

We hereby tender this application for issue of a foreign investment permit in accordance with the provisions under Section 10 of the Republic of Union of Myanmar Foreign Investment Law. We shall delicate our all-out efforts to fulfil the economic objectives of the Government of the Republic of Union of Myanmar by way of implementing our commitments without fail.

We would like to request to allow exemption of Commercial Tax with a view to be competitive with other exportors in the international market and also kindly grant us the following exemptions or reliefs from taxations as the followings:

(a) Exemption from income-tax for a period extending to 5 consecutive years, inclusive of the year of commencement of production of goods.

(b) Exemption or relief from income-tax on profits of the business if they are maintained in a reserve fund and re-invested therein within 1 year after the reserve is made.

(c) Right to accelerate depreciation in respect of machinery, equipment, building or other capital assets used in the business, at the rate fixed by the Commission to the extent of original value for the purpose of income tax assessment;

(d) Relief from income-tax up to 50 per cent on the profits accured from the said export.

(e) Right to pay income-tax payable to the State on behalfs of foreigners,who have come from aboard and are employed in the enterprise and the right to deduct such payment from the assessable income;

(f) Right to pay income-tax on the income of the above mentioned foreigners at the rates applicable to the citizens residing within the country.

(g) Right to deduct from the assessable income,such expenses incurred in respect of research and development relating to the enterprise which are actua8lly required and are carried out within the State.

(h) Right to carry forward and set-off up to 5 consecutive years from the year the loss is sustained in respect of such loss sustained within 2 years immediately following the enjoyment of exemption or relief from income-tax.

(i) Exemption or relief from Custom Duty or other internal taxes or both on machinery equipment, instruments, machinery component, spare parts and material used in the business, which are imported as they are actually required.

(j) Exemption or relief from Custom Duty or other internal taxes or both on such raw materials imported for the first 3 year's commercial production following the completion of construction.

We also enclosed the following contents of the proposal for your kind reference:

1. Proposal of the Promoter,
2. A draft Lease Agreement,
3. A set of Memorandum and Articles of Association,
4. A Projection of Prefeasibility Studies,
5. Land Map, Location Plan and Building Design
6. Bank References of Share holders,
7. Performance Bank Guarantee (draft)

We shall be greatly obliged, if your highly esteemed Commission grant the investment permit at your earliest possible convenience so much so that our activities can commence as soon as possible.

Yours faithfully,

Mr.Wu Zhenyu
Promoter
Unitedtex Overseas Company Limited

To

Chairman
Myanmar Investment Commission
Yangon.

Dated: : 15-9-2014

**Subject : : Submission of undertaking**

We, Unitedtex Overseas Company Limited hereby undertake that we will provide sufficient Generators for operating the Factory and will be used whenever electricity is out .

Yours faithfully,

Mr.Wu Zhenyu
Promoter
Unitedtex Overseas Company Limited

DY

中华人民共和国外交部请各国军政机关对持照人予以通行的便利和必要的协助。

*The Ministry of Foreign Affairs of the People's Republic of China requests all civil and military authorities of foreign countries to allow the bearer of this passport to pass freely and afford assistance in case of need.*

E17086403

中华人民共和国 PEOPLE'S REPUBLIC OF CHINA

护照
PASSPORT



类型/Type
P

国家码/Country Code
CHN

护照号码/Passport No.
E17086403

姓名/Name
邹往所
ZOU, WANGSUO

性别/Sex
男/M

国籍/Nationality
中国/CHINESE

出生日期/Date of birth
06 NOV 1973

出生地点/Place of birth
江苏/JIANGSU

签发日期/Date of issue
13 6月/JUN 2014

签发地点/Place of issue
江苏/JIANGSU

有效期至/Date of expiry
12 6月/JUN 2024

签发机关/Authority
公安部出入境管理局
MPS Exit & Entry Administration

持照人签名/Bearer's signature
邹往所



0312447988

POCHNZOU<<WANGSUO<<<<<<<<<<<<<<<<<<<<<<<<<<<<
E170864039CHN7311062M2406123NHNOMNPJMLPJA944

000663

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

ယူနိုက်တက်တက်(စ်) အိုဗာဆီး **ကုမ္ပဏီ လီမိတက်**

၏

**သင်းဖွဲ့မှတ်တမ်း**

နှင့်

**သင်းဖွဲ့စည်းမျဉ်းများ**

❖❖❖❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memoradum Of Association

*AND*

# Articles Of Association

*OF*

Unitedtex Overseas **COMPANY LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

ယူနိုက်တက်တက် ( စ် ) အိုဗာသီး **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖

၁။ **ကုမ္ပဏီ၏အမည်သည်** ယူနိုက်တက်တက် ( စ် ) အိုဗာသီး **ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။**

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် အမေရိကန်ဒေါ်လာ – ၂,၀၀၀,၀၀၀ / – ( အမေရိကန်ဒေါ်လာ နှစ်သန်း တိတိ ) ဖြစ်၍ အမေရိကန်ဒေါ်လာ – ၁၀၀ / – ( အမေရိကန်ဒေါ်လာတစ်ရာ တိတိ ) တန် အစုရှယ်ယာပေါင်း ( ၂၀,၀၀၀ ) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ အထွေထွေပဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## စက်မှုလက်မှုနှင့် ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့်ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) (ကျွန်းမှအပ)သစ်နှင့် သစ်တောထွက်ပစ္စည်းများအား ( သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်းကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ယာဉ်နှင့် စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများထုတ်လုပ်ခြင်း၊

(ဋ) စက်ရုံသုံးပစ္စည်းများထုတ်လုပ်ခြင်း၊

(ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသော ပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျောက်ပတ်သည်ဟု ယူဆရပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းများတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

**ခြွင်းချက်။** ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက်တည်မြဲနေသောတရားဥပဒေများ၊ အမိန့်ကြေငြာစာများ၊ အမိန့်များကခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ခြင်း မပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့မှတ်တမ်းအရကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီး နှင့်ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | Unitedtex Limited<br>( Represented By )<br>Mr.Wu Zhenyu<br>28 Xingming Road, Suzhou<br>Industrial Park, Suzhou,<br>Jiangsu, China.<br>(Businessman) | Incorporated In<br>Hong Kong<br>Chinese<br>PP No.<br>G 35373160 | ၉၉% | (signature) |
| ၂။ | Texbank Limited<br>( Represented By )<br>Mr.Zou Wangsuo<br>Group 11, Qili Bridge, Baijuzhen,<br>Dafeng, Yancheng, Jiangsu,<br>China.<br>(Businessman) | Incorporated In<br>Hong Kong<br>Chinese<br>PP No.<br>E 17086403 | ၁% | (signature) |
| ၃။ | Mrs.Wang Junfeng<br>Room 1602, Block 11, Donghu<br>Linyu, Suzhou Industrial Park,<br>Suzhou, Jiangsu, China.<br>(Businesswoman) | Chinese<br>PP No.<br>G 54768388 | | (signature) |

ရန်ကုန်မြို့။ နေ့စွဲ ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ၊ (၁၅) ရက် ။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

ယူနိုက်တက်တက်(စ်) အိုဗာဆီး **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် အမေရိကန်ဒေါ်လာ - ၂,၀၀၀,၀၀၀/- (အမေရိကန်ဒေါ်လာ နှစ်သန်း တိတိ )ဖြစ်၍ အမေရိကန်ဒေါ်လာ - ၁၀၀/- (အမေရိကန်ဒေါ်လာ တစ်ရာ တိတိ )တန် အစုရှယ်ယာပေါင်း ( ၂၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသောတရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၅) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) Mr.Wu Zhenyu

(၂) Mr.Zou Wangsuo

(၃) Mrs.Wang Junfeng

(၄)

(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (–)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲ တမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်း ကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့ အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၄င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာ့နိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖❖❖❖❖❖❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီး နှင့်ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | Unitedtex Limited<br>( Represented By )<br>Mr.Wu Zhenyu<br>28 Xingming Road, Suzhou<br>Industrial Park, Suzhou,<br>Jiangsu, China.<br>(Businessman) | Incorporated In<br>Hong Kong<br>Chinese<br>PP No.<br>G 35373160 | ၉၉% | |
| ၂။ | Texbank Limited<br>( Represented By )<br>Mr.Zou Wangsuo<br>Group 11, Qili Bridge, Baijuzhen,<br>Dafeng, Yancheng, Jiangsu,<br>China.<br>(Businessman) | Incorporated In<br>Hong Kong<br>Chinese<br>PP No.<br>E 17086403 | ၁% | |
| ၃။ | Mrs.Wang Junfeng<br>Room 1602, Block 11, Donghu<br>Linyu, Suzhou Industrial Park,<br>Suzhou, Jiangsu, China.<br>(Businesswoman) | Chinese<br>PP No.<br>G 54768388 | | |

ရန်ကုန်မြို့။ နေ့စွဲ ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ၊ (၁၅) ရက် ။
အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

Unitedtex Overseas **COMPANY LIMITED**

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is Unitedtex Overseas COMPANY LIMITED.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is USD 2,000,000- (US Dollars Two Millions Only ) divided into ( 20,000 ) shares of USD 100- /- (US. Dollars One Hundred Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

## Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in Joint-Venture with any local or foreign partners.

(a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.

(b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding-teak) and forest products.

(c) Livestock breeding, processing and canning of livestock products.

(d) Fishing, preserving, milling, canning of processing of marine products.

(e) Producing fertilizers, insecticides and animal feeds.

(f) Manufacturing of Personal goods.

(g) Manufacturing of household goods.

(h) Manufacturing vehicles, machineries and spares.

(i) Manufacturing of arts and crafts, lacquer wares and furniture.

(j) Manufacturing of construction materials and paints.

(k) Manufacturing of factory utencils.

(l) Manufacturing of electrical and electronic goods.

(m) Manufacturing of textile, garments and clothings.

(n) To carry on the business of exploration, exploration, production, processing of minerals and marketing of its products with the permission of the Government.

2. To import machinery, spare parts, raw materials and other necessary for those activities mentione above and to sell wholesale and retail finished and semi-finished products locally and abroad.

3. To borrow monery for the benefit of the Company's business from any person, firm, company, bank or financial organization in the mannar that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union of republic of Myanmar or elsewhere, save in so for as it may be entitled so as todo in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be pre scribed by the Laws, Orders and Notifications of the Republic of Union of republic Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | Unitedtex Limited<br>( Represented By )<br>Mr.Wu Zhenyu<br>28 Xingming Road, Suzhou Industrial Park, Suzhou, Jiangsu, China.<br>(Businessman) | Incorporated In Hong Kong<br>Chinese<br>PP No.<br>G 35373160 | 99% | (signed) |
| 2 | Texbank Limited<br>( Represented By )<br>Mr.Zou Wangsuo<br>Group 11, Qili Bridge, Baijuzhen, Dafeng, Yancheng, Jiangsu, China.<br>(Businessman) | Incorporated In Hong Kong<br>Chinese<br>PP No.<br>E 17086403 | 1% | (signed) |
| 3 | Mrs.Wang Junfeng<br>Room 1602, Block 11, Donghu Linyu, Suzhou Industrial Park, Suzhou, Jiangsu, China.<br>(Businesswoman) | Chinese<br>PP No.<br>G 54768388 | | (signed) |

Yangon : : Dated 15th Day of September, 2014.

It is hereby certified that the persons mentioned above put their signature in my presence.

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

Unitedtex Overseas **COMPANY LIMITED**

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect: -

   *(a) The mumber of the Company , exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The authorised capital of the Company is USD 2,000,000- ( US Dollars Two Millions Only ) divided into ( 20,000 ) shares of USD 100- ( US Dollars One Hundred Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and more than (15).

The First Directors shall be: -

(1) Mr. Wu Zhenyu
(2) Mr. Zou Wangsuo
(3) Mrs. Wang Junfeng
(4)
(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least (-) shares in the Company in his or her own name and it shall be his duty to comply with the provision of Section ( 85 ) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15 A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two, number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2)* *all sales and purchases of goods by the Company;*

*(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | Unitedtex Limited<br>( Represented By )<br>Mr.Wu Zhenyu<br>28 Xingming Road, Suzhou Industrial Park, Suzhou, Jiangsu, China.<br>(Businessman) | Incorporated In Hong Kong<br>Chinese<br>PP No.<br>G 35373160 | 99% | [signature] |
| 2 | Texbank Limited<br>( Represented By )<br>Mr.Zou Wangsuo<br>Group 11, Qili Bridge, Baijuzhen, Dafeng, Yancheng, Jiangsu, China.<br>(Businessman) | Incorporated In Hong Kong<br>Chinese<br>PP No.<br>E 17086403 | 1% | [signature] |
| 3 | Mrs.Wang Junfeng<br>Room 1602, Block 11, Donghu Linyu, Suzhou Industrial Park, Suzhou, Jiangsu, China.<br>(Businesswoman) | Chinese<br>PP No.<br>G 54768388 | | [signature] |

Yangon : : Dated 15th Day of September, 2014.

It is hereby certified that the persons mentioned above put their signature in my presence.

[signature]

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.